



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

အတည်ပြုအမိန့်အမှတ် ၁၀၇/၂၀၁၈ — ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဃ) အရ ဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဒေါ်ရှောက်ဖွေ

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၅၈-၂/၂၊ အောင်မင်္ဂလာလမ်း၊ အမှတ်-၄ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ Mottama Holding Limited၊ အမှတ်-၅၆၊ အခန်း-၅၀၁၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချခြင်း၊ ကုန်သေတ္တာ သိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်-၁၂၄(A,B)၊ မြေတိုင်းရပ်ကွက်အမှတ်-၃၉(စက်မှု)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန်အပိုင်း(၂)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၈,၄၅၅.၂၄ သန်း (ကျပ် ရှစ်ထောင်လေးရာငါးဆယ့်ငါးသန်းနှင့် နှစ်သိန်းလေးသောင်းခန့်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ -

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် MOTTAMA LOGISTIC COMPANY LIMITED (မုတ္တမ လော့ဂျစ်စတစ်(စ်)ကုမ္ပဏီလီမိတက်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/အ-၀၃၁/၂၀၁၈ ( ၂၅၁ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇူလိုင် လ ၃၀ ရက်

အကြောင်းအရာ။ **Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) ၏ ကုန်တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး ကုန်သေတ္တာတင်/ချခြင်း၊ ကုန်သေတ္တာ သိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) ၏ ၁၅-၇-၂၀၁၈ ရက်စွဲပါစာ

၁။ Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) မှ မြေကွက်အမှတ်-၁၂၄(A,B)၊ မြေတိုင်းရပ်ကွက်အမှတ်-၃၉(စက်မှု)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန်အပိုင်း(၂)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဆိပ်ခံတံတားမှ ကုန်သေတ္တာတင်/ချခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြလာခြင်းအား၂၀၁၈ခုနှစ် ဇူလိုင် လ၂၆ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၈) ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်)အား ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၁၀၇ /၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈) ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့်

သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်)သည် ဤအတည်ပြုမိန့်အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်) သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် သက်ဆိုင်ရာဥပဒေ၊ နည်း ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်း ခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇အရ လုပ်ငန်းဆောင်ရွက် နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

ဖြန့်ဝေခြင်း

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်မှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
တိုင်းဒေသကြီးဦးစီးမှူးရုံး၊ရန်ကုန်တိုင်းဒေသကြီး၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Mottama Logistic Company Limited (မုတ္တမလော့ဂျစ်စတစ်(စ်) ကုမ္ပဏီလီမိတက်)